

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၁၃/၀၃/( ၂၄၇၉ )/စသက
ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ ၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အလုံမြို့နယ် ကမ်းနားလမ်း အမှတ် ၁၃၈/၁၅၀တွင် (၇)ထပ်တိုက် အဆောက်အအုံ ဆောက်လုပ်ရန်ကိစ္စ။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁. ၉. ၉၇ ရက်စွဲပါ စာအမှတ် ရက-၁/မ-၁၄၆/၉၇ (၈၉၂)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ အလုံမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် ၁၃၈/၁၅၀တွင် ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်နှင့် လူမှုဝန်ထမ်း ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနတို့ အကျိုးတူပူးပေါင်းဆောင်ရွက်၍ (၇)ထပ်တိုက် အဆောက်အအုံ နှစ်လုံးဆောက်လုပ်လို၍ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါ (၇)ထပ်တိုက် ဆောက်လုပ်ခွင့်နှင့် ပါတ်သက်၍ လိုအပ်သော စာရွက်စာတမ်းများ၊ ပုံစံများ၊ တွက်ချက်မှုများဖြင့် ပေးပို့လာပါက ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီအနေဖြင့် ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ဉက္ကဋ္ဌ (ကိုယ်စား)
(ကျော်ဝင်း၊ အတွင်းရေးမှူး)

မိတ္တူကို -
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ

ရက်စွဲ..................
ဝင်စာတင်ပြခြင်း
ဝန်ကြီး..................
ညွှန်ချုပ်..................
ဒု-ညွှန်ချုပ်..................
..........................

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01- 282101

တယ်လီဖုန်း – ၂၇၂၈၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၉၁။

O/C

စာအမှတ်၊ ရက - ၁/ရ၁၂/၉၁( ၂၉၄၀ )။
ရက်စွဲ၊ ၁၉၉၁ ခုနှစ်၊ ဇွန်လ ၂၅ ရက်။

အကြောင်းအရာ။ ။ <u>မီးသတ်ဦးစီးဌာနပိုင်မြေကွက်အား ခြင်္သေ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်နှင့် ရှောင်နှီးကုမ္ပဏီ လီမိတက်သို့ငှားရမ်း၍ အဆောက်အဦးဆက်လက်ဆောက် လုပ်ခွင့်ပြုပါရန်ကိစ္စ။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ နိုင်ငံတော်ပိုင်မြေနှင့်အဆောက်အဦးများ ငှားရမ်းခြင်းဆိုင်ရာ ကော်မရှင်၏ (၃-၆-၉၁) နေ့တွင်ကျင်းပသော အစည်းအဝေး (၃/၉၁) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ အောက်ဖော်ပြပါအချက်များကို ဆုံးဖြတ်ခဲ့ပါသည်။

(က) ဌာနပိုင်မြေကိုငှားရမ်းသုံးစွဲသည့်အတွက်သက်ဆိုင်ရာကုမ္ပဏီများမှ ပေးသွင်းရမည့်မြေအသုံးချမှု ပရီမီယံကြေးကို လေးရစ်ဖြင့် ခြောက်လစီခွဲ၍ Central Fund - သို့ပေးသွင်းရန်နှင့်ယင်း နောက်အကျိုးအကြောင်း ဖော်ပြ၍ အသုံးစရိတ်အဖြစ် ထုတ်ယူသုံးစွဲရန်၊

(ခ) ငွေအသွင်းအထုတ်ပြုလုပ်နိုင်ရန်ပြီး ဦးစီးမှုအမြဲအနေ ကိုလုပ်ငန်းစစ်အဖွဲ့ဖွဲ့စည်းပြီး စစ်ဆေးဆောင်ရွက် ရန်၊

(ဂ) အဆောက်အဦးကိုတည်ဆောက်နေစဉ်လုပ်ငန်းစစ်ဆေးရေး အဖွဲ့ဖွဲ့စည်း၍ စစ်ဆေးကြပ်မတ်သွားရန်၊

(ဃ) ငွေကြေးအထုတ်/အသွင်းပြုလုပ်ခြင်းနှင့်ပါတ်သက်၍ ရသုံးခန့်မှန်းခြေငွေစာရင်း ဦးစီးဌာန၏လုပ်ထုံးလုပ်နည်းအရ ဆောင်ရွက်ရန်၊

လျှို့ဝှက်

အကြောင်းအရာ။ ။ မီးသတ်ဦးစီးဌာနပိုင် မြေကွက်အားခြေသံ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သို့ ငှားရမ်း၍အဆော အဦဆက်လက် ဆောက်လုပ်ခွင့်ပြုပါရန်ကိစ္စ။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခြေသံ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အား မီးသတ်ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ အလုံ မြို့နယ်၊ ကမ်းနားလမ်းအမှတ်၃၈/၁တွင် ၉၀'× ၄၀'(၇)ထပ်အဆောက်အဦ ဆော က်လုပ်၍ လုပ်ငန်းဆောင်ရွက်ရန် ၂၀-၁၁-၉၅ နေ့စွဲပါခွင့်ပြုမိန့်အမှတ်၊ မနသ-၀၉၅/၉၅ဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ အထက်ပါအဆောက်အဦ ဆောက်လုပ်ရန်အတွက် ခြေသံ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ မြေအသုံးချမှုပရီမီယံ ကြေးအဖြစ် မီးသတ်ဦးစီး ဌာနသို့ ယင်းမြေနေရာတွင်ပင် ၆၀'× ၄၀'(၇)ထပ်အဆောက်အဦတစ်လုံးကို ကျပ် ၃၀၂.၄သိန်းဖြင့် ဆောက်လုပ်ပေးရန်ဖြစ်ပါသည်။

၃။ သို့ရာတွင် ၁၀-၁၂-၉၅ နေ့တွင်ကျင်းပခဲ့သော အစိုးရအဖွဲ့ အစည်းအဝေးလမ်းညွှန်ချက်အရ ဌာနအတွက် ဆောက်လုပ်ပေးရမည့်လုပ်ငန်းများ ရပ်ဆိုင်းထားရန်အကြောင်းကြားခဲ့ပါသည်။ ထို့အပြင် ဆောင်ရွက်ပြီးစီးမှုများရှိ က ပြီးစီးမှုအခြေအနေ၊ ကုန်ကျစရိတ်များနှင့် မည်သို့ဆက်လက် ဆောင်ရွက်လိုသည်ကို သိရှိနိုင်းပြန်ကြားရန် အကြောင်းကြားခဲ့ပါသည်။

၄။ သို့ပါ၍ ခြေသံ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ မီးသ ဦးစီးဌာနအတွက် ဆောက်လုပ်ပေးရမည့်အဆောက်အဦကို ၂၆-၁-၉၅ နေ့တွင် စတင်ဆောင်ရွက်ခဲ့ရာ အထပ်(၇)ထပ်ကြမ်းခင်းများပြီးခဲ့ပြီး၊ ၂ထပ်တွင် အခန်း ဖွဲ့ကာရံမှုများပါပြီးစီးပြီဖြစ်၍ လုပ်ငန်း၏ ၅၀ ရာခိုင်နှုန်း၊ တန်ဖိုးအားဖြင့် ကျပ် ၁၆၀ သိန်းဖိုး ဆောင်ရွက်ပြီးဖြစ်ကြောင်းတင်ပြလာပါသည်။

၅။ လုပ်ငန်းဆက်လက်ဆောင်ရွက်ခွင့်ပြုနိုင်ရန် ကော်မရှင်၏လမ်း မှုကို လိုက်နာမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

လျှို့ဝှက်

* ဖိုင် ၁၄-၂-၉၅။

098/97

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၄၆/၉၇ (၁၆၀၈)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၅ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။

၁။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) မှ နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း နှင့် လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၇)ကြိမ်မြောက် ကြိုတင်ညှိနှိုင်း အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Saloon ၁(တစ်)စီး၊ Mixer Truck ၁(တစ်)စီး နှင့် Tipper Truck ၁(တစ်)စီး တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင် ဆောင်ရွက်သည့် အချိန်တွင် Saloon ၁(တစ်)စီး၊ Mini-bus ၁(တစ်)စီး နှင့် Pick-up ၁(တစ်)စီး တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့်မော်တော်ယာဉ်များ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရှိ )
တွဲဖက်အတွင်းရေးမှူး

အုပ်ချုပ်မှုဒါရိုက်တာ၊
ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်။

မိတ္တူကို -

(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

H/RIN 037141
228137
225360

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့.

Telex 21368 INVEST BM
Fax : 095 - 01 - 82101

တယ်လီဖုန်း - ၇၂၀၀၉
- ၇၂၂၁၉
- ၇၂၈၇၀

စာအမှတ်၊ ရက - ၁/မ - ၁၄၆/၉၇(၈၉၂)။

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ၁ ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ ဖြူသွေ့ညီနောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ ၂၂-၈-၉၇ ရက်စွဲပါစာ၊

၁။ ဖြူသွေ့ညီနောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သည်လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနပိုင် မြေကွက်အမှတ်(၃-အီ/၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃-ဂျီ)၊ အမှတ်(၁၃၈/၁၅၀)၊ ကမ်းနားလမ်း အလုံမြို့နယ် ရန်ကုန်မြို့တွင်(၇)ထပ်အမြင့်ရှိသော Commercial Complex, Office & Apartment and Shopping Centre ကို BOT စနစ်အရတည်ဆောက်ပြီး ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ် နေရာငှားရမ်းခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လုပ်ကိုင်ခွင့်ပြုရန်အဆိုပြုလွှာ ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့တင်ပြ လျှောက်ထားလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း(၃)၊ အပိုဒ်၁၁ပါပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့်အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏သဘောထားမှတ်ချက်ကိုပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

တွဲဖက်အတွင်းရေးမှူး(ကိုယ်စား)
(စီစဉ်၊ ညွှန်ကြားရေးမှူး)

ဥက္ကဋ္ဌ၊
ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ၊
ပူးတွဲ-
(၁) အဆိုပြုချက်
(၂) အာမခံ ရေးဆိုင်ရာအချက်အလက်များနှင့်တွက်ချက်မှုဇယားများ၊
(၃) ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်၊
(၄) BOT စနစ်ဖြင့်မြေငှားရမ်းခြင်း သဘောတူစာချုပ်။
* ရွေး * ၂၉-၈-၉၇။

9.97
29

[illegible] MI [illegible]



ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/ ၈၀၅/ ၉၇( ၁၁၄၅)။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်။

အမှာစာ

အကြောင်းအရာ။ ။ ခြင်္သေ့ညီနောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ခြင်္သေ့ညီနောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Lion Brothers Construction Co.Ltd) သည် နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၈-၁၀-၉၇) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူကြောင်း၊

(ခ) နှစ်စဉ်မြေငှားရမ်းခကိုတစ်စတုရန်းမီတာလျှင်ကျပ် ၉၀၀ နှုန်းဖြင့်တွက်ချက်ရန်၊

(ဂ) အထက်ပါအချက်များကိုညှိနှိုင်းပြီး ပြင်ဆင်၍ပြန်လည်တင်ပြလာသည့်အခါ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

အထက်ပါဆုံးဖြတ်ချက်များအပေါ် ညှိနှိုင်းပြင်ဆင်၍ပြန်လည်တင်ပြလာပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ BOT စနစ်

ဖြင့် မြေငှား ရမ်း ခြင်း သဘောတူစာချုပ်(မူကြမ်း)၊ ရွှေဆိုင်း ငွေပေး ချေခြင်း စနစ်အရ စက်ပစ္စည်း ကရိယာနှင့် ဆောက်လုပ်ရေး ပစ္စည်း များ ဝယ်ယူရန်သဘောတူစာချုပ်(မူကြမ်း)နှင့် ငွေရေး ကြေး ရေး ဆိုင်ရာအထောက်အထား များ ကိုနောက်ဆက်တွဲ(၁)တွင်တင်ပြထား ပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅)သန်း အပါအဝင်ကျပ်(၇၀.၆)သန်း ဖြစ်ပါသည်။ ယင်း တွင် ငွေသား ကျပ် (၃၅.၀)သန်း ၊ အဆောက်အဦတန်ဖိုး ကျပ်(၄၀.၆)သန်း ၊ စက်ပစ္စည်း ကရိယာ နှင့် ဆောက်လုပ်ရေး ပစ္စည်း တန်ဖိုး ကျပ်(၃.၀)သန်း[အမေရိကန် ဒေါ်လာ(၀.၅) သန်း] တို့ကိုထည့်ဝင်ရင်း နှီး မည်ဖြစ်ပါသည်။ ဤလုပ်ငန်း အတွက်လိုအပ်သည့်စက်ပစ္စည်း ကရိယာနှင့် ဆောက်လုပ်ရေး ပစ္စည်း များ ကိုစင်ကာပူနိုင်ငံ Song Lee Buildings Materials Pte Ltd မှ ရွှေဆိုင်း ငွေပေး ချေခြင်း စနစ်အရဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း (၅) ရာခိုင်နှုန်း ဖြင့်(၅) နှစ်အတွင်း ပြန်လည် ပေး ဆပ်ရမည် ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကိုလူမှုဝန်ထမ်း ကယ်ဆယ် ရေး နှင့်ပြန်လည် နေရာချထား ရေး ဝန်ကြီး ဌာန၊ မီး သတ်ဦး စီး ဌာနပိုင်၊ ရန်ကုန်မြို့၊ အလုံမြို့နယ်၊ ကမ်း နား လမ်း ၊ မြေတိုင်း ရပ်ကွက်အမှတ်(၂၃ [illegible])၊ မြေကွက်အမှတ်၃-ဘီ/၁၊ အမှတ်၁၃၀/ ၁၅၀ ပေါ်ရှိ မြေ ၀.၃၃၆ဧက(၁၃၅၉.၇၅စတုရန်း မီတာ) မြေကွက် ပေါ်တွင် (၀.၀၉၉)ဧက(၉၀'×၄၈') မြေကွက်ကိုသာ၊ B.O.T စနစ်ဖြင့်ကနဦး နှစ်(၃၀) နှင့် နောက်ထပ်(၅) နှစ်သုံး ကြိမ်တိုး မြင့်ငှား ရမ်း၍ ရုံး ခန်း ၊ ဆိုင်ခန်း နှင့်လူနေ အိပ်ခန်း များ ဆောက်လုပ်၍ ငှား ရမ်း ခြင်း လုပ်ငန်း ကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း ကို ဆောင်ရွက် ရန်အတွက်လူမှုဝန်ထမ်း ကယ်ဆယ် ရေး နှင့် ပြန်လည် နေရာချထား ရေး ဝန်ကြီး ဌာန၊ မီး သတ်ဦး စီး ဌာနနှင့်ခြံ သိ့ဘည် နေဝင် ဆောက်လုပ် ရေး ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှား ရမ်း ခြင်း သဘောတူစာချုပ်(မူကြမ်း)တွင်ပါဝင်သည့်အဓိကအချက်များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ငှားရမ်းမှုသက်တမ်း မှာ ခေတ်မီ (၇) ထပ်အဆောက်အဦကို မြေလွှဲပြောင်း လက်ခံရရှိသည့်နေ့မှ (၁၈) လအတွင်း အပြီး တည်ဆောက်ရန်နှင့်ပြီး စီးခြင်း မရှိပါက (၁၈) လပြည့်သည့်နေ့မှစ၍ ကျသင့်သော ငှားရမ်းခများကို ပေးသွင်းရန်နှင့် ငှားရမ်းကာလကို (၁၈) လပြည့်သည့်နေ့မှစ၍ ရေတွက်ရမည်ဖြစ်ပါသည်။

(ခ) မြေအသုံးချခွင့်ပရီမီယံကြေး အဖြစ် မီးသတ်ဦးစီးဌာနပိုင်ကမ်းနားလမ်း၊ အလုံမြို့နယ်ရှိ မြေ (၀.၃၃၆) ဧက ပေါ်တွင် (၆၀'×၄၀') (၂၆၇.၅၅ စတုရန်းမီတာ) အကျယ်ရှိသည့် (၇) ထပ်အဆောက်အဦကိုကျပ် (၃၀.၂၄) သိန်း တန်ဖိုး အကုန်အကျခံ၍ မီးသတ်ဦးစီးဌာနမှ အတည်ပြုပြီး သောစံချိန်၊ စံညွှန်း သတ်မှတ်ချက်များနှင့်အညီ (၁၈) လအတွင်း ဆောက်လုပ်ပေးရမည်ဖြစ်ပါသည်။ (တစ်ဧက လျှင်ကျပ် ၃၀၅.၄၅ သိန်း နှုန်း ခန့်ရှိပါသည်။)

(ဂ) နှစ်စဉ်မြေငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင်ကျပ် (၉၀၀) နှုန်းဖြင့်အသုံးပြုနိုင်သည့်ကြမ်းခင်းဧရိယာ (၂၂၄၀) စတုရန်းမီတာအတွက်ကျပ် (၂.၀၂) သိန်းကိုနှစ်စဉ်ကြိုတင် ပေးသွင်းရမည်ဖြစ်ပါသည်။

(ဃ) နှစ်စဉ်ငှားရမ်းခများကိုဘဏ္ဍာရေးနှစ်အလိုက်ကြိုတင်ပေးချေရာကျင်ဘဏ္ဍာရေးနှစ်အစဖြစ်သော ဧပြီလအတွင်း ပေးချေရန်နှင့် ဆိုင်လုံသောအကြောင်းပြချက်မရှိဘဲ (၃) လထိ ပျက်ကွက်ပါက ငှားရမ်းခြင်းကို မီးသတ်ဦးစီးဌာနမှ တစ်ဖက်သတ်ရပ်ဆိုင်းပိုင်ခွင့်ရှိပါသည်။

(င) ငှားရမ်းခနှုန်းထားများကိုငါးနှစ်တစ်ကြိမ်ပြန်လည်စိစစ်ရန်နှင့်ထိုသို့စိစစ်ရာတွင်မူလငှားရမ်းခ၏ (၁၅) ရာခိုင်နှုန်းထက်မပိုစေရန် ဖော်ပြထားပါသည်။

(စ) ငှား ရမ်း ကာလကုန်ဆုံး သည့်အခါ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦနှင့်ဆက်စပ်ပတ်သက် နေသော ပစ္စည်း အားလုံး ကိုမွမ်းမံ ထား ရှိပြီး ကောင်း မွန်စွာအသုံး ပြုနိုင် သည့်အခြေအနေအတိုင်း အဖိုး စား နား မဲ့ မိမိ လက်ဦး စီးဌာနသို့လွှဲပြောင်း ပေး ရမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်း ကိုဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင် ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၃.၃၇ | ၂.၃၀ | ၂၅.၆၇ |
| (ခ) အသုံး စရိတ် | ၁၃.၂၁ | ၀.၇၀ | ၁၄.၀၀ |
| (ဂ) အသားတင်အမြတ် | ၁၀.၁၆ | ၁.၅၁ | ၁၁.၆၇ |

၆။ ဤလုပ်ငန်း မှအဆောက်အဦများ ကိုပုံမှန်နှစ်တွင်နိုင်ငံခြား ငွေဖြင့်ငှား ရမ်း နိုင်မည့်နှုန်း ကို (၆၀) ရာခိုင်နှုန်း ဖြင့်လည်း ကောင်း ၊ ကျပ် ငွေဖြင့်ငှား ရမ်း နိုင်မည့်နှုန်း ကို (၂၅) ရာခိုင်နှုန်း ဖြင့်လည်း ကောင်း ခန့်မှန်း တွက်ချက်ထား ပါသည်။ အခန်း ငှား နှုန်း မှာပုံမှန်နှစ်တွင်တစ်စတု ရန်း မီတာလျှင်နိုင်ငံခြား ငွေဖြင့်အမေရိကန် ဒေါ်လာ (၂၆၀) နှုန်း ဖြင့်လည်း ကောင်း ၊ ကျပ် ငွေဖြင့်ကျပ် (၃၇၇၀၀) နှုန်း ဖြင့်လည်း ကောင်း ငှား ရမ်းမည် ဖြစ်ပါသည်။

၇။ ဤလုပ်ငန်း ကိုဆောင်ရွက်ခြင်း ဖြင့်နိုင်ငံတော်မှပုံမှန်နှစ် တွင်ရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန် ဒေါ်လာသန်း ) | ၀.၀၄ |
| (ကျပ်သန်း ) | ၄.၃၅ |
| (ခ) မြေငှား ရမ်း ခ ရငွေ (ကျပ်သန်း ) | ၂.၀၂ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်း မှဝန်ထမ်း (၆၀) ဦးနှင့်နိုင်ငံခြား မှကျွမ်းကျင်သူဝန်ထမ်း (၃) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသား များ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြား မှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း နှင့်ပတ်ဝန်းကျင်ညစ်ညမ်း မှုမဖြစ်ပွား စေရန်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက် ပေးထား ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်း ခွင့်နှင့် ပတ်သက်၍တည် ဆောက် ရေး ကာလအတွင်း Saloon (၁)တစ်စီး ၊Mixer Truck (၁)တစ်စီး နှင့် Tipper Truck (၁)တစ်စီး တို့ကိုအခွန်အကောက်ကင်း လွတ်ခွင့်ဖြင့်လည်း ကောင်း ၊ လုပ်ငန်း စတင် ဆောင်ရွက်ချိန်တွင် Saloon (၁)တစ်စီး ၊ Mini Bus (၁)တစ်စီး နှင့် Pick-up (၁)တစ်စီး တို့ကိုအခွန်အကောက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုရန်မြန်မာနိုင်ငံ ရင်း နှီး မြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၇) ကြိမ် မြောက်ကြိုတင်ညှိနှိုင်း အစည်း အဝေး မှဆုံး ဖြတ်ခဲ့ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ငွေကြေး ဆိုင်ရာအထောက်အထား အဖြစ်ခြ ညီ့ညီ နောင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ မြန်မာအရှေ့တိုင်း ဘဏ်လီမိတက်တွင်ထား ရှိသောဘဏ်စာရင်း ကိုတင်ပြထား ပါသည်။

၁၂။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ သဘောထား မှတ်ချက်တောင်း ခံခဲ့ရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်း ပြန်ကြား လာပါသည်။

၁၃။ မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၁၂နှင့် ၁၃ ပါအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။ ဥပဒေပုဒ်မ ၁၂အရ စီး ပွား ရေး လုပ်ငန်း စတင် သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက်ဝင် ငွေခွန်ကင်း လွတ်ခွင့် ပေး ရမည်ဖြစ်ပါသည်။

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေး အတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရဝန်ဆောင်မှုလုပ်ငန်းကြောင့်ပြည်တွင်းပြည်ပဝင်ငွေတိုး တက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ ဂရုဏာပါ လုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော် သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုတစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါကထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကိုအမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါကခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရလုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဘိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည့်အထိအမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ နှင့် ဆောက်လုပ်ရေး ပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်း လွတ်ခွင့်ပြုသင့်ပါသည်။






မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၉၈/၉၇ 　　　 ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဝင်းကြူ (ခ) ဦးအကျန်

(ခ) အဘအမည် ဦးကျင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၂၃၀၀၄

(ဃ) နေရပ်လိပ်စာ အမှတ် ၁၅၄၊ ဒုတိယသိဂီရိပ်သာ၊ အောက်ကြည့်မြင်တိုင်လမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ခြင်္သေ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Lion Brothers Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်ခန်းများပါဝင်သည့်အဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ၁၃၀/၁၅၀၊ မြေကွက်အမှတ် ၃-ဘီ/၁၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃ဂျီ)၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၇၀.၆)သန်း

(ကုပ်ခုနှစ်ဆယ်ရှစ်သန်း နှင့် ခြောက်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၄၅/၉၇
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၄ ရက်။
(၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၂၁ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) သည်၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန၊ မီးသတ် ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ အလုံမြို့နယ်၊ ကမ်းနားလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃ ဂျီ) မြေကွက် အမှတ်၊ ၃-ဘီ/၁ ရှိ (၀.၀၉၉) ဧက (၉၀ ပေ × ၄၈ ပေ) မြေကွက်အား၊ ကနဦး နှစ် (၃၀) ငှားရမ်း၍ (၇) ထပ် အမြင့်ရှိသော Commercial Complex ကို B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်ခန်းများ ပါရှိသည့် အဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်းကို၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၇-၁၀-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၂၀-၁၁-၉၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၃၉/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.)အား နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်ခန်းများ ပါရှိသည့် အဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၀၉၈/၉၇ ကို ထုတ်ပေးလိုက်သည်။

၂။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု

ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည် ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၃(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (**Source of Payments for Import**) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (**Loan and Credits**)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (**Buy-back System**) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက်အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ငွေဖြင့်သာ ပေးဆပ်ရန်။

၄။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ မီးသတ် ဦးစီးဌာန နှင့် အငှား ချထားခြင်းခံရသူ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စံနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ တင်ပြရမည်။

၅။ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန၊ မီးသတ် ဦးစီးဌာန နှင့် ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စံနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူ စာချုပ်၏ သက်တမ်းကာလမှာ ကနဦးအနှစ်(၃၀) ဖြစ်ပြီး၊ နောက်ထပ် ၅ နှစ် ၃ကြိမ် တိုးမြှင့်ခွင့်ပြုသည်။

၆။ ခေတ်မီ (၇) ထပ် အဆောက်အဦကို မြေလွှဲပြောင်း လက်ခံရရှိသည့်နေ့မှ (၁၈) လအတွင်း အပြီး တည်ဆောက်ရန်နှင့် ပြီးစီးခြင်း မရှိပါက (၁၈) လပြည့်သည့်နေ့မှစ၍ ကျသင့်သော ငှားရမ်းခများကို ပေးသွင်းရန်နှင့် ငှားရမ်းကာလကို (၁၈) လပြည့်သည့်နေ့မှစ၍ ရေတွက်ရမည်။

၇။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) သည်၊ မြေအသုံးချခွင့် ပရီမီယံကြေးအဖြစ် မီးသတ်ဦးစီးဌာနပိုင် ကမ်းနားလမ်း၊ အလုံမြို့နယ်ရှိ အမှတ်၊ (၁၃၈/၁၅၀)၊ မြေတိုင်း ရပ်ကွက် အမှတ်(၂၃ ကျို)၊ မြေကွက်အမှတ် ၃–ဘီ/၁ ရှိ မြေ (၀.၃၃၆)ဧကပေါ်တွင် (၆၀ ' × ၄၀ ') (၂၆၇.၅၅ စတုရန်းမီတာ)အကျယ်ရှိသည့် (၇)ထပ်အဆောက်အဦကို ကျပ် (၃၀.၂၄)သန်း

တန်ဖိုး အကုန်အကျခံ၍ မီးသတ် ဦးစီးဌာနမှ အတည်ပြုပြီးသော စံချိန် စံညွှန်း သတ်မှတ်ချက်များ နှင့်အညီ (၁၈) လအတွင်း ဆောက်လုပ်ပေးရမည်။

၈။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.) သည်၊ နှစ်စဉ်မြေငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင် ကျပ် ၉၀၀ နှုန်းဖြင့် အသုံးပြုနိုင်သည့် ကြမ်းခင်းဧရိယာ ၂၂၄၈ စတုရန်းမီတာအတွက် စုစုပေါင်း နှစ်စဉ် ငှားရမ်းခ ကျပ် ၂,၀၂ သန်းကို (၆)လ တစ်ကြိမ် ကြိုတင်ပေးသွင်းရမည်။

၉။ နှစ်စဉ်ငှားရမ်းခများကို (၆) လတစ်ကြိမ် ကြိုတင်ပေးချေရာတွင် ခိုင်လုံသော အကြောင်းပြချက်မရှိပဲ (၃)လအထိ ပျက်ကွက်ပါက ငှားရမ်းခြင်းကို မီးသတ် ဦးစီးဌာနမှ တစ်ဖက်သတ် ရပ်ဆိုင်းခွင့်ရှိသည်။

၁၀။ ငှားရမ်းခ နှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည် စိစစ်ရန်နှင့် ထိုသို့ စိစစ်ရာတွင် မူလငှားရမ်းခ၏ (၁၅) ရာခိုင်နှုန်းထက် မပိုသော နှုန်းထားဖြင့် ပြန်လည် စိစစ်ရမည်။

၁၁။ ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.)သည်၊ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦ နှင့် ဆက်စပ် ပတ်သက်နေသော ပစ္စည်းအားလုံးကို မွမ်းမံထားရှိပြီး၊ ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အငှားချထားသူ (မီးသတ်ဦးစီးဌာန)သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

၁၂။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.)သည် နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီများသို့ အခန်းများကို ငှားရမ်းရာတွင် လုပ်ငန်းအတွက် အသုံးပြုခွင့် (Leasehold interest) ကိုသာ ငှားရမ်းရမည်။ ထို့အပြင် ၁၉၈၇ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေ ပုဒ်မ၅၊ ပုဒ်မခွဲ(က) အရ တစ်ကြိမ်လျှင် တစ်နှစ်ထက်ပို၍ အငှားချထားခြင်း မပြုရသည့်အပြင် အငှားချထားခြင်း ခံရသူ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီက အခြားတစ်ဦးတစ်ယောက်သို့ ထပ်ဆင့်ငှားရမ်းခြင်း (Sub-Lease)၊ လွှဲပြောင်းခြင်း (Transfer) တို့ကို ပြုလုပ်ခွင့် မရှိကြောင်း အငှားစာချုပ်တွင် ထည့်သွင်းချုပ်ဆိုရမည်။

၁၃။ ရင်းနှီးမြှုပ်နှံသူ အနေဖြင့် မြေအသုံးပြုမှု နှင့် ပတ်သက်၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ

ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှုထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၇။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြု လုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

အ မိန့် အ ရ –

( မိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၁၄၆/၉၇ (၁၄၄၂ )
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ၂၈ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန။
၁၀။ ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ မီးသတ် ဦးစီးဌာန။
၂၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ မန်းနေးဂျင်း ဒါရိုက်တာ၊ ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Lion Brothers Construction Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီး ချုပ်ရုံး
ရန်ကုန်မြို့

စာအမှတ်၊ (ဒု) ၀၁၇/ရင်းနှီး/၁( ၄၅၆ )၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ ။ <u>ခြင်္သေ့ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် မှ နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေ အိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ခြင်္သေ့ညီနောင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်( Lion Brothers Construction Co., Ltd. )သည် နိုင်ငံတကာ အဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို( ၁၇-၁၀-၉၇ )နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၁၆/၉၇ ) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူညီပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေနေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ B.O.T စနစ် ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်( မူကြမ်း )၊ ရှယ်ယာပိုင်းငွေပေးချေခြင်း စနစ်အရ စက်ပစ္စည်းကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းများ ဝယ်ယူရန် သဘောတူစာချုပ်( မူကြမ်း )တို့ကို <u>နောက်ဆက်တွဲ( ၁ )</u>တွင် တင်ပြထားပါသည်။

လျှို့ဝှက်

၂။ ဤလုပ်ငန်း၏မတည် ငွေရင်းပမာဏမှာ အမေရိကန် ဒေါ်လာ (၀.၅)သန်း အပါအဝင်ကျပ်(၇၈.၆)သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ်(၃၅.၀)သန်း၊ အဆောက်အဦတန်ဖိုးကျပ်(၄၀.၆)သန်း၊ စက်ပစ္စည်း ကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းတန်ဖိုးကျပ်(၃.၀)သန်း [အမေရိကန် ဒေါ်လာ (၀.၅)သန်း] တို့ကို ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ ဤလုပ်ငန်းအတွက်လိုအပ်သည့် စက်ပစ္စည်းကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းများကို စင်ကာပူနိုင်ငံ Song Lee Buildings Materials Pte Ltd. - မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်အရ ဝယ်ယူမည်ဖြစ်ပြီး၊ တစ်နှစ်လျှင်အတိုးနှုန်း(၅)ရာခိုင်နှုန်းဖြင့်(၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနပိုင်၊ ရန်ကုန်မြို့၊ အလုံမြို့နယ်၊ ကမ်းနားလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃ဂျီ)၊ မြေကွက်အမှတ်၃-ဘီ/၁၊ အမှတ်၁၃၈/၁၅၀ ပေါ်ရှိ မြေ ၀.၃၃၆ဧက(၁၃၅၉.၇၅စတုရန်းမီတာ) မြေကွက် ပေါ်တွင်(၀.၀၉၉)ဧက(၉၀'×၄၈') မြေကွက်ကိုသာ၊ B.O.T စနစ်ဖြင့် ငှားရမ်း၍ ရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်ပြီး၊ ငှားရမ်းခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနနှင့် ခြသော်ညီနောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)တွင် ပါဝင်သည့်အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀)ဖြစ်ပြီး၊ နောက်ထပ်တိုးမြှင့်ကာလ(၅)နှစ်(၃)ကြိမ်တိုးမြှင့်ခွင့်ရှိပါသည်။

(ခ) ငှားရမ်းမှုသက်တမ်းမှာ ခေတ်မီ(၇)ထပ်အဆောက်အဦကို မြေလွှဲပြောင်းလက်ခံရရှိသည့်နေ့မှ(၁၈)လအတွင်း အပြီးတည်ဆောက်ရန်နှင့်ပြီးစီးခြင်းမရှိပါက(၁၈)လပြည့်သည့်နေ့မှစ၍ ကျသင့်သောငှားရမ်းခများကို ပေးသွင်းရန်နှင့် ငှားရမ်းကာလကို(၁၈)လပြည့်သည့်နေ့မှစ၍ ရေတွက်ရမည်ဖြစ်ပါသည်။

(ဂ) မြေအသုံးချခွင့်ပရီမီယံကြေးအဖြစ် မီးသတ်ဦးစီးဌာနပိုင် ကမ်းနားလမ်း၊ အလုံမြို့နယ်ရှိ မြေ (၀.၃၃၆) ဧကပေါ်တွင် (၆၀'× ၄၈') (၂၆၇.၅၅ စတုရန်းမီတာ) အကျယ်ရှိသည့် (၇) ထပ်အဆောက်အဦကိုကျပ် (၃၀.၂၄) သန်းတန်ဖိုးအကုန်အကျခံ၍ မီးသတ်ဦးစီးဌာနမှအတည်ပြုပြီး သောစံချိန်၊ စံညွှန်းသတ်မှတ်ချက်များနှင့်အညီ (၁၈) လအတွင်း ဆောက်လုပ်ပေးရမည် ဖြစ်ပါသည်။ (တစ်ဧကလျှင်ကျပ် ၃၀၅.၄၅ သန်းနှုန်းခန့်ရှိပါသည်)

(ဃ) နှစ်စဉ်မြေငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင် ကျပ် (၉၀၀) နှုန်းဖြင့်အသုံးပြုနိုင်သည့်ကြမ်းခင်းဧရိယာ (၂၂၄၈) စတုရန်းမီတာအတွက်ကျပ် (၂.၀၂) သန်းကို (၆) လတစ်ကြိမ် ကြိုတင်ပေးသွင်းရမည်ဖြစ်ပါသည်။

(င) နှစ်စဉ်ငှားရမ်းခများကို (၆) လတစ်ကြိမ်ကြိုတင်ပေး ချေရာတွင် ပိုင်လုံသောအကြောင်းပြချက်မရှိဘဲ (၃) လအထိပျက် ကွက်ပါက ငှားရမ်းခြင်းကို မီးသတ်ဦးစီးဌာနမှ တစ်ဖက် သတ် ရုပ်သိမ်းခွင့်ရှိပါသည်။

(စ) ငှားရမ်းခနှုန်းထားများကို (၅) နှစ်တစ်ကြိမ်ပြန်လည်စိစစ် ရန်နှင့် ထိုသို့စိစစ်ရာတွင် မူလငှားရမ်းခ၏ (၁၅) ရာ ခိုင်နှုန်းထက်မပိုစေရန် ဖော်ပြထားပါသည်။

(ဆ) ငှားရမ်းကာလကုန်ဆုံးသည့်အခါ မြေနှင့်တကွအဆောက်အဦ အပါအဝင်အဆောက်အဦနှင့်ဆက်စပ်ပတ်သက်နေသောပစ္စည်း အားလုံးကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာအသုံးပြုနိုင်သည့် အခြေအနေအတိုင်းအဖိုးစားနားမဲ့ မီးသတ်ဦးစီးဌာန သို့ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၃.၃၇ | ၂.၃၁ | ၂၅.၆၈ |
| (ခ) အသုံးစရိတ် | ၁၃.၂၁ | ၀.၈၀ | ၁၄.၀၁ |
| (ဂ) အသားတင်အမြတ် | ၁၀.၁၆ | ၁.၅၁ | ၁၁.၆၇ |

၆။ ဤလုပ်ငန်းမှအဆောက်အဦများကို ပုံမှန်နှစ်တွင် နိုင်ငံခြားငွေဖြင့် ငှားရမ်းနိုင်မည့်နှုန်းကို (၆၀) ရာခိုင်နှုန်းဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်ငှားရမ်းနိုင်မည့်နှုန်းကို (၂၅) ရာခိုင်နှုန်းဖြင့်လည်းကောင်း ခန့်မှန်းတွက်ချက်ထားပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၄ |
| (ကျပ်သန်း) | ၄.၃၅ |
| (ခ) မြေငှားရမ်းခငွေ (ကျပ်သန်း) | ၂.၀၂ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှဝန်ထမ်း (၆၀) ဦးနှင့် နိုင်ငံခြားမှကျွမ်းကျင်သူဝန်ထမ်း (၃) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းသည် ပြည်ပနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်းကတိဝန်ခံချက် ပေးထားပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ် အပါအဝင် ဆက်တိုက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက် လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ခြံဆို့ညီ နေဝင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် မှ နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့် လူနေ အိမ်ခန်းများ ဆောက်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ <u>ဒုတိယဝန်ကြီးချုပ်ရုံး၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ်မောင်မောင်]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>



* ဇ/နံ ၁၉-၁၀-၉၇။